ကုမ္ပဏီအမည် - Pacific Food Industries Limited(ပစိဖိတ်ဖုဒ်) အင်ဒတ်စ်ထရီး(စ်) လီမိတက်)

လုပ်ငန်း - နို့ထွက်ပစ္စည်းများထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၅-၄-၂၀၁၆ | | |
| ၂ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး | ၁၄-၆-၂၀၁၆<br>၂၀-၇-၂၀၁၆ | ၁၉.၈.၂၀၁၆ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၁၀-၆-၂၀၁၆ | ၂၉-၆-၂၀၁၆ | |
| ၃ | PAT တင်ပြခြင်း | ၁၆-၅-၂၀၁၆ | | |
| ၄ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၁၇-၅-၂၀၁၆ | | |
| ၅ | ကုမ္ပဏီ မှပြင်ဆင်ချက် | ၁၂-၆-၂၀၁၆ | | |
| ၆ | အဆိုပြုလုပ်ငန်းအားမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ( /၂၀၁၆)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခြင်း | | | |
| | စုစုပေါင်းကြာမြင့်ချိန် | ၁၆၈ ရက် | | |

| | |
|---|---|
| ကုမ္ပဏီအမည် | Pacific Food Industries Limited (ပစိဖိတ် ဖုဒ်) အင်ဒတ်စ် ထရီး (စ်) လီမိတက်) |
| အဖွဲ့အစည်းပုံသဏ္ဍာန် | ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | နို့ထွက်ပစ္စည်းများထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| တည်နေရာ | မြေကွက်အမှတ် (၈၃)၊ လှိုင်သာယာစက်မှုဇုန်အပိုင်း(၃)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် ၅၉၄၆.၇၄ သန်း (အမေရိကန်ဒေါ်လာ ၃.၈၂၇၅ သန်းအပါအဝင်) |
| ရောင်းချမည့်စနစ် | ပြည်တွင်း ၁၀၀% |
| လုပ်ငန်းသက်တမ်း | ကနဦး ၃၀ နှစ် နှင့် နောက်ထပ် (၁၀) နှစ် သက်တမ်းတိုးနှစ်ကြိမ် |
| အရင်းကြေကာလ | ၄ နှစ် ၅လ |
| IRR | ၁၆.၇၈ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၁.၅၄၈ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၁၆၅ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၂၂၉.၆၅သန်း | |
| ၄ | ဝင်ငွေခွန် | ကျပ်၁၅၉၂.၂၇ သန်း | ကျပ် ၂၂၆၅.၀၆ သန်း |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ကျပ် ၁၃၇၅.၈၃ သန်း |
| ၆ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၅၀.၄၁ သန်း |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ဝင်ငွေခွန်ဥပဒေအတိုင်း ထမ်းဆောင် ပါမည်။ |
| ၈ | CSR (၂ %) | | ကျပ် ၁၅၉.၇၂ သန်း |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းလုပ်သား (၈၅) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်ပါသည်။ |
| | | ကျပ် ၁၈၂၃.၄၇ သန်း | ကျပ် ၃၈၅၂.၁၈ သန်း |
| | Cost & Benefit | ၁ : ၂ | |

အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Pacific Food Industries Limited တည်ထောင်၍ နို့ထွက်ပစ္စည်းများ ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ

| | | | |
|---|---|---|---|
| ၁။ | ကုမ္ပဏီအမည် | | - Pacific Food Industries Limited(ပစိဖိတ် ဖုဒ်) အင်ဒတ်စ်ထရီး(စ်) လီမိတက် |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | | - ဦးစိုးမြင့် |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | | - ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| ၄။ | လုပ်ငန်းအမျိုးအစား | | - နို့ထွက်ပစ္စည်းများထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၅။ | မြေပိုင်ရှင် | | - မြို့ပြနှင့် အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန၊ ဆောက်လုပ်ရေး ဝန်ကြီးဌာန |
| | လုပ်ငန်းတည်နေရာ / | | - မြေကွက်အမှတ် (၈၃)၊ လှိုင်သာယာစက်မှုဇုန်အပိုင်း(၃)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| | မြေအကျယ်အဝန်း | | - မြေဧရိယာ(၂.၀၁၁)ဧက(၈၁၃၈.၂၃၅ စတုရန်းမီတာ) |
| | မြေငှားသက်တမ်း | | - ကနဦး (၃၀)နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်<br>- (၉-၁-၂၀၁၇ ရက်နေ့မှစ၍) |
| | တည်ဆောက်မှုကာလ | | - ၁၂လ |
| | မြေနှင့်အဆောက်အဦငှားရမ်းခနှုန်း | | - နှစ်စဉ်မြေငှားရမ်းခ US$ ၄၀၆၉၀.၁၇ သန်း<br>(၁နှစ်တစ်စတုရန်းမီတာ= US$ ၅) |
| | လုပ်ငန်းသက်တမ်း | | - ကနဦး (၃၀)နှစ်နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ကြိမ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း | | - ကျပ် ၅၉၄၆.၇၄ သန်း(အမေရိကန်ဒေါ်လာ ၃.၈၂သန်း အပါအဝင်) |
| | ထည့်ဝင်မှုအမျိုးအစား | | - **ကျပ် (သန်းပေါင်း)** |
| | အဆောက်အဦး | | ၂၇၀.၆၇ |
| | စက်ပစ္စည်းကိရိယာတန်ဖိုး | | ၁၀၀၀.၀၇ (အမေရိကန်ဒေါ်လာ၀.၈၃သန်း) |
| | ယာဉ် နှင့် ပစ္စည်းကိရိယာများ | | ၄၂.၁၅ |
| | ပရိဘောဂနှင့် တပ်ဆင် ပစ္စည်းများ | | ၁၈.၂၄ |
| | ရုံးသုံးပစ္စည်းများ | | ၂၂.၆၉ |
| | ကုန်ကြမ်းပစ္စည်း | | ၂၂၈၀.၀၀ (အမေရိကန်ဒေါ်လာ ၁.၉၀သန်း) |
| | ငွေ | | ၂၃၀၂.၈၂ (အမေရိကန်ဒေါ်လာ၁.၀၉သန်း) |
| | **စုစုပေါင်း** | | ၅၉၄၆.၇၄ |

| | | | |
|---|---|---|---|
| | ဝန်ထမ်းအင်အား(စုစုပေါင်း) | | - **၈၅ ဦး** |
| | ဝန်ထမ်းအင်အား(ပြည်တွင်း) | | - **၈၅ဦး**(ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ၁၂၀,၀၀၀ကျပ် ဖြစ်ပြီးအမြင့်ဆုံးလစာမှာ ၃,၅၀၀,၀၀ကျပ် ဖြစ်ပါသည်။) |
| ၈။ | ရောင်းချမည့်စနစ် | | - ပြည်တွင်း၁၀၀% |
| | နှစ်စဉ်ပုံမှန်နှစ် ထုတ်လုပ်မှု (၆)နှစ်မြောက် | | **စဉ်** **အမည်** — **ထုတ်လုပ်မှု (ctn)** — **ရောင်းဈေးနှုန်း (ကျပ်/ctn)** |
| | | | ၁။ Happy Cow(Blue) — ၆၇,၃၂၇ — ၂၈,၈၄၈ |
| | | | ၂။ Happy Cow(Red) — ၅၆,၁၀၆ — ၂၇.၈၁၈ |
| | | | ၃။ Dairy Maid — ၂,၂၄၄ — ၂၅,၇၅၈ |
| ၉။ | ကုမ္ပဏီ၏ဝင်ငွေ (၆နှစ်မြောက်) | | - ကျပ် ၃၅၆၀.၈၂ သန်း |
| | | | - ကျပ် ၂၅၉၀.၀၉ သန်း |
| | အသုံးစရိတ် | | - ကျပ် ၉၇၀.၇၃ သန်း |
| | အသားတင်အမြတ် | | |
| ၁၀။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် | | - |
| | ဝင်ငွေခွန် | | - ကျပ် ၃၁၅.၅၉ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | | - ကျပ် ၁၇၈.၀၄ သန်း |
| ၁၁။ | အရင်းကြေကာလ | | - ၄နှစ် ၅လ |
| ၁၂။ | ရင်းအနှီးပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | | - ၁၆.၇၈ % |
| ၁၃။ | လျှပ်စစ်ဓါတ်အားလိုအပ်ချက် | | - ၁၃၈၀၀ ယူနစ် |

| | | | |
|---|---|---|---|
| ၁၄။ | ငွေကြေးအထောက်အထား | | - ရောဝတီဘဏ်တွင် Pacific Food Industries Limited မှ အစုရှယ်ယာပိုင်ရှင် Dagon Win Win Company Limited အမည်ဖြင့် (၉-၅-၂၀၁၆)ရက်စွဲဖြင့် ကျပ် ၁,၀၅၅,၃၆၀,၅၁၂.၀၁ ရှိကြောင်း တင်ပြထားပါ သည်။ |
| ၁၅။ | အခြားတင်ပြချက် | | - ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာနနှင့် Pacific Food Industries Limited တို့ အကြားချုပ်ဆိုထားသည့်မြေငှားစာချုပ် (မူကြမ်း)နှင့် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် တင်ပြထားပါသည်။ |
| ၁၆။ | စိစစ်တွေ့ရှိချက် | | - Pacific Food Industries Limited သည် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုမှ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုသို့ ပြောင်းလဲခွင့်ပြုပါရန်နှင့် မြေငှားသက်တမ်းအား (၂၀+၅+၅)မှ (၃၀+၁၀+၁၀) သို့ တိုးမြှင့်ပေးပါရန် ကော်မရှင် သို့တင်ပြခဲ့ရာ ကော်မရှင်မှ Pacific Food Industries Limited အမည်ဖြင့် မြန်မာကုမ္ပဏီဖွဲ့စည်းတည်ထောင်ပြီး အဆိုပြု ချက်နှင့်အတူ တိုးမြှင့်ခွင့်ကိုဆောက်လုပ်ရေးဝန်ကြီးဌာန မှ တဆင့် တင်ပြရန် အကြောင်းကြားခဲ့ ပါသည်။<br>- ယခုအခါ မြန်မာကုမ္ပဏီ ဖွဲ့စည်းတည်ထောင်ပြီး မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု အဆိုပြုချက်နှင့်အတူ မြေငှား သက်တမ်းအား (၂၀+၅+၅) မှ (၃၀+၁၀+၁၀)သို့ တိုးမြှင့် ချုပ်ဆိုထားသည့် စာချုပ် မူကြမ်းနှင့်အတူ ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တဆင့် တင်ပြလာ ခြင်းဖြစ်ပါ သည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက - ၂/ မ- ၂၄၄ / ၂၀၁၆ (မြ၉၅၈၈)
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် စက်တင်ဘာလ ၁၄ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Pacific Food Industries Limited တည်ထောင်၍ နို့ထွက်ပစ္စည်းများ ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ**

၁။ Pacific Food Industries Limited မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုမှ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုသို့ ပြောင်းလဲခွင့်ပြုပါရန် တင်ပြခြင်းကို ၂၀၁၅ခုနှစ် ဩဂုတ်လ ၂၀ ရက်နေ့ တွင် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုခဲ့ပါသဖြင့် Pacific Food Industries Limited သည် မြန်မာကုမ္ပဏီဖွဲ့စည်း တည်ထောင်ကာ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီး ဌာနပိုင်ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာစက်မှု ဇုန်အပိုင်း(၃)၊ မြေကွက်အမှတ် (၈၃)၊ မြေဧရိယာ (၂.၀၁၁) ဧကအား ငှားရမ်း၍ နို့ထွက် ပစ္စည်းများ ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးစိုးမြင့်(အဘ-ဦးအောင်ခင်) မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ထားပြီး ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီး ဌာနနှင့် Pacific Food Industries Limited တို့ အကြား ချုပ်ဆိုမည့် မြေ ငှားရမ်းခြင်း သဘောတူစာချုပ်ကို တင်ပြထားပါသည်။ မြေငှားစာချုပ်ပါ အဓိက အချက်များမှာအောက်ပါအတိုင်းဖြစ်ပါသည်-

(က) ငှားရမ်းခြင်းကာလမှာ ၁၉၉၇ခုနှစ် ဇန်နဝါရီလ ၉ရက်နေ့မှ စ၍ ၃၀နှစ် ဖြစ်ပြီး တစ်ကြိမ်လျှင် ၁၀နှစ် သက်တမ်းဖြင့် သက်တမ်း၂ကြိမ်တိုးမြှင့်နိုင်သည်။

(ခ) ကနဦးနှစ်၂၀ မြေငှားစာချုပ်၏ သက်တမ်းကုန်ဆုံးရက် ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၉ ရက်နေ့တွင် မြေငှားခနှုန်းထား တစ်စတုရန်းမီတာလျှင် ၅ ဒေါ်လာနှုန်းဖြင့် စုစုပေါင်း

မြေအသုံးပြုခ အမေရိကန်ဒေါ်လာ ၄၀၆၉၁.၁၇ အား မြေငှားရမ်းခြင်း ခံရသူမှ မြေငှားသူကိုပေးချေရမည်ဖြစ်သည်။

(ဂ) မြေငှားခနှုန်းသည် ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၉ ရက်နေ့မှစ၍ တစ်စတုရန်းမီတာလျှင် ၅ ဒေါ်လာနှုန်းမှ တိုးမြှင့်သွားမည်ဖြစ်ပါသည်။

၃။ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာမှာ (၂.၀၁၁)ဧက(၈၁၃၈.၂၃၅ စတုရန်းမီတာ)ဖြစ်ပြီး မြေ ငှားရမ်းခမှာ တစ်နှစ်လျှင် တစ်စတုရန်းမီတာ US$ ၅ ဖြစ်ပါသည်။ မြေငှားရမ်းသက်တမ်းမှာ ကနဦး၃၀ နှစ် နှင့်၁၀နှစ် နှစ်ကြိမ် သက်တမ်းတိုးမည်ဖြစ်ပါသည်။

၄။ လုပ်ပ်ငန်းစီမံကိန်း ကာလမှာ ကနဦး ၃၀ နှစ်နှင့် သက်တမ်းတိုး ၁၀နှစ် နှစ်ကြိမ် ဖြစ်ပြီး၊ တည်ဆောက်ရေးကာလ ၂ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းမှာ အမေရိကန်ဒေါ်လာ ၃.၈၂ သန်းအပါအဝင်ကျပ် ၅၉၄၆.၇၄ သန်းဖြစ်ပြီးအောက်ပါအတိုင်းထည့်ဝင်ထားပါသည်-

| စဉ် | | ကျပ် |
|---|---|---|
| (က) | အဆောက်အဦး | ၂၇၀.၆၇ |
| (ခ) | စက်ပစ္စည်းကိရိယာတန်ဖိုး | ၁၀၀၀.၀၇(အမေရိကန်ဒေါ်လာ၀.၈၃သန်း) |
| (ဂ) | ယာဉ် နှင့် ပစ္စည်း ကိရိယာ များ | ၄၂.၁၅ |
| (ဃ) | ပရိဘောဂ နှင့် တပ်ဆင်ပစ္စည်းများ | ၁၈.၂၄ |
| (င) | ရုံးသုံးပစ္စည်းများ | ၂၂.၆၉ |
| (စ) | ကုန်ကြမ်းပစ္စည်း | ၂၂၈၀.၀၀ (အမေရိကန်ဒေါ်လာ ၁.၉၀သန်း) |
| (ဆ) | ငွေ | ၂၃၁၂.၈၂ (အမေရိကန်ဒေါ်လာ၁.၀၉သန်း) |
| | **စုစုပေါင်း** | **၅၉၄၆.၇၄** |

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ (၈၅) ဖြစ်ပြီး ပြည်တွင်းဝန်ထမ်း၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၂၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၃၅၀,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထုတ်ကုန်များကို ပြည်တွင်း(၁၀၀%) ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ်တွင်ထုတ်လုပ်မှုနှင့် ပြည်တွင်းရောင်းဈေးနှုန်းမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါ သည်-

၁ ctn = ၄၈ လုံး
၁လုံး = ၁၇၀ ကျပ်

နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ် (ပြည်တွင်းရောင်း)

| စဉ် | အမည် | ထုတ်လုပ်မှု (ctn) | ရောင်းဈေးနှုန်း (ကျပ်/ctn) |
|---|---|---|---|
| (က) | Happy Cow(Blue) | ၆၇,၃၂၇ | ၂၈,၈၄၈ |
| (ခ) | Happy Cow(Red) | ၅၆,၁၀၆ | ၂၇.၈၁၈ |
| (ဂ) | Dairy Maid | ၂,၂၄၄ | ၂၅,၇၅၈ |

၈။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) ဝင်ငွေ ကျပ် ၃၅၆၀.၈၂ သန်း

(ခ) အသုံး စရိတ် ကျပ် ၂၅၉၀.၀၉ သန်း

(ဂ) အသားတင်အမြတ် ကျပ် ၉၇၀.၇၃ သန်း

၉။ နိုင်ငံတော်မှ ပုံမှန်နှစ်တွင်ရရှိမည့် အကျိုးအမြတ်ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၃၁၅.၅၉ သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန်ကျပ်၁၇၈.၀၄သန်းတို့ ဖြစ်ပါသည်။

၁၀။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၄)နှစ်(၅)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ (၁၆.၇၈) ရာခိုင်နှုန်း ဖြစ်ပါသည်။

၁၁။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** မှ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်းကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျှော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက် အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေး ဆိုင်ရာ အကျိုးပြုလုပ်ငန်းများ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အသားတင်အမြတ်ငွေ၏ ၁% အားအသုံးပြုခြင်း အပါ အဝင်

များအား လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊ အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး သို့မဟုတ် ထိခိုက်မှုအနည်းဆုံး ဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)အား ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့် အညီ အစီရင်ခံစာရေးသား တင်ပြရန်၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဆိုင်ရာဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး(ထုတ်လွှတ်မှု) လမ်းညွှန်ချက် များနှင့်အညီလိုက်နာ ဆောင်ရွက်ရန်သဘောထား ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ခ**

၁၂။ ငွေရေးကြေးရေး အထောက်အထားအဖြစ် ရောဝတီဘဏ်တွင် Pacific Food Industries Limited မှ အစုရှယ်ယာပိုင်ရှင် Dagon Win Win Company Limited အမည်ဖြင့် (၉-၅-၂၀၁၆) ရက်နေ့အထိ ကျပ် ၁,၀၅၅,၃၆၀,၅၁၂.၀၁ ရှိကြောင်း တင်ပြထားပါ သည်။ Pacific Food Industries Limited ၏ ကုမ္ပဏီမှတ်ပုံတင်အထောက်အထားများ၊ ပုံစံ၆၊ ပုံစံ၂၆ နှင့် ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင် မိတ္တူများအား တင်ပြထားပါသည်။

၁၃။ အဆိုပြုလုပ်ငန်းသည် မီးဘေးကာကွယ်ရေးစီမံချက်၊ အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာမည့်အခြေအနေ၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်နှင့် ကျန်းမာရေးစောင့်ရှောက်မှုအစီအစဉ်များ၊ လစာခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိ ပြုခြင်း၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်အစီအစဉ်နှင့် စက်ရုံမှ မီးခိုးမည်း မထွက်စေရန် စီမံချက်၊ လုပ်ငန်းသဘောသဘာဝ၊ လျှပ်စစ်ဓာတ်အား ရယူသုံးစွဲမည့် အစီအစဉ်များကို တင်ပြထားပါသည်။

၁၄။ ကုမ္ပဏီမှ လုပ်ငန်းလုပ်ဆောင်၍ ရရှိလာသည့် အမြတ်ငွေ၏ ၂% ကို Cooperate Social Responsibility (CSR) လုပ်ငန်းတွင် ထည့်ဝင်မည်ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထား ပါသည်။

**စိစစ်တင်ပြချက်**

၁၅။ အောက်ပါအတိုင်းစိစစ်တွေ့ရှိရပါသည်-

(က) Pacific Food Industries Limited သည် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုမှ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုသို့ ပြောင်းလဲခွင့်ပြုပါရန်နှင့် မြေငှားသက်တမ်းအား (၂၀+၅+၅)မှ (၃၀+၁၀+၁၀) သို့ တိုးမြှင့်ပေးပါရန် ကော်မရှင် သို့တင်ပြခဲ့ရာ ကော်မရှင်မှ Pacific Food Industries Limited အမည်ဖြင့် မြန်မာကုမ္ပဏီ ဖွဲ့စည်းတည်ထောင်ပြီး အဆိုပြုချက်နှင့် အတူတိုးမြှင့်ခွင့်ကို ဆောက်လုပ်ရေး ဝန်ကြီးဌာန မှ တဆင့် တင်ပြရန် အကြောင်းကြားခဲ့ပါသည်။ ထို့ကြောင့် မြန်မာ ကုမ္ပဏီ ဖွဲ့စည်းတည်ထောင်ပြီး မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု အဆိုပြုချက် နှင့်အတူ မြေငှား သက်တမ်းအား (၂၀+၅+၅) မှ (၃၀+၁၀+၁၀)သို့ တိုးမြှင့် ချုပ်ဆို ထားသည့် စာချုပ်.မူကြမ်းနှင့်တကွ ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တဆင့် တင်ပြ လာ ခြင်းဖြစ်ပါ သည်။

(ခ) Pacific Food Industries Limited သည်နိုင်ငံခြားကုမ္ပဏီမှ မြန်မာကုမ္ပဏီသို့ ကုမ္ပဏီ မှတ်ပုံတင်အမှတ် ၂၂၈၁/၂၀၁၅-၂၀၁၆(ရက) (၂၆.၁၀.၂၀၁၅) ရက်စွဲဖြင့် ဖွဲ့စည်းတည်ထောင်ထားပြီး ဖြစ်ပါသည်။

(ဂ) ကုမ္ပဏီသည် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ရရှိပါက နိုင်ငံခြားသား ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ကို ပြန်လည် အပ်နှံ ရမည်ဖြစ်ပါသည်။

(ဃ) ကုမ္ပဏီသည် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်စဉ်က ၂၀၁၅-၂၀၁၆ ဘဏ္ဍာရေး နှစ်အတွက် ကြိုတင်ဝင်ငွေခွန် ကျပ် ၃,၀၀၀,၀၀၀ နှင့် ကုန်သွယ် လုပ်ငန်းခွန်ကျပ် ၃၂,၅၈၁,၆၃၁.၀၀ ပေးဆောင်ထားကြောင်း စိစစ်တွေ့ ရှိရပါသည်။ မြို့ပြနှင့်အိမ်ရာ ဖွံ့ဖြိုးရေးဦးစီးဌာနမှ ကုမ္ပဏီသည် မြေငှားရမ်းခများကို အပြည့်ပေး ဆောင်ထားပြီး ကြွေးကျန်မရှိကြောင်း ထောက်ခံ ထားပါသည်။

၁၆။ ကုမ္ပဏီမှ စက်ရုံမီးဘေးကာကွယ်ရေးစီမံချက်၊ ဝန်ထမ်းလစာများ နှင့် ပတ်သက်၍ သတ်မှတ်နှုန်းထားများအတိုင်း အခွန်ပေးဆောင်မှု ကတိဝန်ခံချက်၊ ကုမ္ပဏီ၏ ခွင့်ပြုမတည် ငွေရင်း တိုးမြှင့်ခြင်းနှင့် ပတ်သက်၍ ဝန်ခံကတိပြု တင်ပြခြင်းနှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန် ကာကွယ်မှုအစီအစဉ်၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို တင်ပြထားပါသည်။

၁၇။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ပုဒ်မ ၂၀ပါ (က၊ ဂ၊ စ၊ ဆ၊ ဇ၊ ည) အရ အခွန်အကောက်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။

၁၈။ ၂၀၁၆ ခုနှစ် မေလ ၁၆ ရက်နေ့တွင် ကျင်းပ ပြုလုပ်သည့် အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၁၈/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၉။ Pacific Food Industries Limited မှ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီး ဌာနပိုင်ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာစက်မှုဇုန်အပိုင်း(၃)၊ မြေကွက်အမှတ် (၈၃)၊ မြေဧရိယာ (၂.၀၁၁) ဧကအား ငှားရမ်း၍ နို့ထွက် ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်း အပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူ၊
ရုံးလက်ခံ/မျှောစာတွဲ

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Pacific Food Industries Limited (ပစိဖိတ် ဖုဒ်) အင်ဒတ်စ်ထရီး(စ်) လီမိတက် | (၁)ဦးစိုးမြင့် မန်နေဂျင်းဒါရိုက်တာ ၁၂/လသန(နိုင်)၀၁၅၀၀၆ | အခန်း(၁၁-၀၂)၊ရွှေသံလွင်ကွန်ဒို၊ ဆရာစံရပ်ကွက်၊ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။ |
| | | (၂)ဦးအောင်လွင် ဒါရိုက်တာ ၁၂/မဂဒ(နိုင်)၀၁၆၂၁၉ | အမှတ်-(၄၂)၊ရလမ်း၊ အမှတ်(၃)ရပ်ကွက်၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့ |

| | | | |
|---|---|---|---|
| ၁။ | ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | - | ၀၉-၂၅၀၀၈၈၈၀၇ |
| ၂။ | ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ | - | အခန်း(၁၁-၀၂)၊ရွှေသံလွင်ကွန်ဒို၊ ဆရာစံရပ်ကွက်၊ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။ |
| ၃။ | ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | - | |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - | နို့ထွက် ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - | ၂၂၈၁/၂၀၁၅-၂၀၁၆(ရက)(၂၆-၁၀-၂၀၁၅) |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - | ၂၅-၁၀-၂၀၂၀ |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - | |

တိုင်းဒေသကြီးအစိုးရအဖွဲ့
စာအမှတ်.. ၅.၁.၅၆
ရက်စွဲ.. ၁၉/၈/၁၆
ရန်ကုန်တိုင်းဒေသကြီး

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ရန်ကုန်တိုင်းဒေသကြီး**

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဩဂုတ်လ ၁၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၄. ၆. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ မရက-၂/ မ-၂၄၄/၂၀၁၆(၄၇၅)

၁။ Pacific Food Industries Limited မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုမှ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုသို့ ပြောင်းလဲခွင့်ပြုပါရန် တင်ပြလာခြင်းကို (၂၀. ၈. ၂၀၁၅)ရက်နေ့တွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုခဲ့ပါသဖြင့် Pacific Food Industries Limited သည် မြန်မာကုမ္ပဏီဖွဲ့စည်းတည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာစက်မှုဇုန် အပိုင်း(၃)၊ မြေကွက်အမှတ်(၈၃)၊ မြေဧရိယာ(၂. ၀၁၁)ကေအား ငှားရမ်း၍ နို့ထွက်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ကန့်ကွက်ရန်မရှိကြောင်း တင်ပြအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(နော်ပန်းသဉ္ဇာမြိုး၊ တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး)

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Pacific Food Industries Limited
လက်ခံစာတွဲ/မျှောစာတွဲ

D/2016/Lesson(MIC).,(51)

MIC, 221/2916

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဗ၀၁/ MIC(OSS) /ဖ၁(၁၈၄ /၁၆ )
ရက် စွဲ ၊၂၀၁၆ခုနှစ် ဇွန် လ ၂၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Pacific Food Industries Limited မှ နို့နှင့်နို့ထွက်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၀-၆-၂၀၁၆ ရက်စွဲပါစာအမှတ်၊ မရက-၂/ မ-၂၄၄/ ၂၀၁၆(၄၆၇)

၁။ Pacific Food Industries Limited မှ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာစက်မှုဇုန်အပိုင်း(၃)၊ မြေကွက်အမှတ်(၈၃)၊ မြေဧရိယာ(၂.၀၁၁)ဧကအားငှားရမ်း၍နို့ထွက်ပစ္စည်းများထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦးနှစ်(၃၀)နှင့်သက်တမ်းတိုး(၁၀)နှစ်(၂)ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်ရေးကာလမှာ(၁၂)လဖြစ်ကြောင်း၊ ပထမနှစ်တွင် Happy Cow(Blue)၊ Happy Cow(Red)၊ Dairy Maid တံဆိပ်များဖြင့် နို့ဆီဗူး စုစုပေါင်း ၂၀၄၂.၈၈တန်မှ (၁၀)နှစ်အတွင်း နို့ဆီဗူးစုစုပေါင်း ၂၂၉၂.၃၃တန်အထိ တိုးမြှင့်ထုတ်လုပ်သွားမည်ဖြစ်ကြောင်း၊ ဝန်ထမ်းများသက်သာချောင်ချိရေးနှင့်လုပ်ငန်းခွင်သာယာရေးအစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်များကို ထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာသောအသားတင်အမြတ်ငွေ၏(၁%)ကိုလူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR)လုပ်ငန်းများတွင်ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ ပတ်ဝန်းကျင်

စီမံခန့်ခွဲမှုအစီအစဉ်(Environmental Management Plan-EMP)အားရေးဆွဲ၍ စီမံချက်နှင့် အညီအကောင်အထည်ဖော်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ ပြဋ္ဌာန်းထားသည့်ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ ညွှန်ကြားချက်များနှင့်အညီလိုက်နာ ဆောင်ရွက်သွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ Pacific Food Industries Limited မှ နို့နှင့်နို့ထွက်ပစ္စည်းထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းများဆောင်ရွက်ရာတွင် နို့ဆီဗူးပြုလုပ်ရန်အတွက် အသုံးပြုမည့်ကုန်ကြမ်းပစ္စည်းများ ဖြစ်သော စတီးသံပြားများကို ဖြတ်တောက်ခြင်း၊ ပုံသွင်းခြင်း၊ ပါကင်ပိတ်ခြင်းလုပ်ငန်းမှ ထွက်ရှိလာမည့်စတီးသံပြားဖြတ်စညပ်စများ၊ နို့ဆီချက်လုပ်ခြင်းလုပ်ငန်းမှ ထွက်ရှိလာမည့် စွန့်ပစ်ရေဆိုးများ၊ ညော်နံ့များ၊ အခိုးအငွေ့များကို စနစ်တကျစီမံခန့်ခွဲခြင်းမပြုပါက ပတ်ဝန်းကျင် ရေထု၊ လေထု၊ မြေထုညစ်ညမ်းခြင်း၊ လုပ်ငန်းအဆင့်တိုင်းတွင် စက်များကိုအသုံးပြုဆောင်ရွက်မည်ဖြစ်သဖြင့် အသံဆူညံခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Pacific Food Industries Limited မှ နို့နှင့်နို့ထွက်ပစ္စည်းထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအားဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြုလွှာတွင်ဖော်ပြထားသည့်လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု ( Corporate Social Responsibility-CSR )အတွက် အသားတင်အမြတ်ငွေ၏(၁%)အား အသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

( ခ ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း / စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေး

မည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** (Environmental Management Plan– EMP) အား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်ခံစာရေးသားတင်ပြရန်။

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး(ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့်အညီလိုက်နာဆောင်ရွက်ရန်။

(ဃ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ